## **လူယုတ်မာကိုသိရန် အရည်အချင်း**

ကျော်သူ

*[‘လူယုတ်မာကိုသိရန် အရည်အချင်း’ သည် ၁၆ ရာစုနှစ်နှောင်းပိုင်း အင်္ဂလိပ် အကျင့်စာရိတ္တပြဇာတ်တွဲ တစ်ခုဖြစ်သည်။ ပြဇာတ်၏ အဓိကဇာတ်ကြောင်းမှာ 'ယုတ်မာသော' (‘knavish’) အမြတ်ထုတ် ခေါင်းပုံဖြတ်မှုများကို အဆုံးစွန်ထိ ဖော်ထုတ်ခံရသောကြောင့် ပြဇာတ်ထဲမှ ဇာတ်ကောင်ဖြစ်သော "ရိုးသားမှု" (“Honesty”) မှ အပြစ်ပေးလိုက်သော မရိုးသားဘဲ ကိုယ်ကျိုးရှာသော ညီအကို လေးယောက်၏ မကောင်းသော အကျင့်ဆိုးများ ကို ဖော်ပြထားခြင်းဖြစ်သည်။]*

*ယခုဆောင်းပါးကို ၂၀၂၃ ခုနှစ် ဖေဖော်ဝါရီလ ၁၂ ရက်နေ့က ရေးသားထားသော်လည်း ထိုအချိန်က မဖြန့်ဝေခဲ့ပေ။ တိုင်းရင်းသား စည်းလုံးညီညွတ်ရေး အစိုးရ၊ တစ်နည်းအားဖြင့် မြန်မာနိုင်ငံ၏ သူပုန် 'ပြည်ပြေးအစိုးရ'၏ မကြာသေးမီက ဆုံးဖြတ်ချက် ဖြစ်သော ရှောင်တာနယ် ကို ၎င်း၏ အသစ်ဖွဲ့စည်းထားသော 'ကြားဖြတ်ဗဟိုဘဏ်' ၏ အကြံပေးအဖြစ် ခန့်အပ်ရန် ကိစ္စနှင့် ပတ်သက်ပြီး ယခုဖြန့်ဝေလိုက်ပါသည်။*

မြန်မာနိုင်ငံ၏ နိုင်ငံတော်စီမံအုပ်ချုပ်ရေး ကောင်စီ (State Administration Council (SAC)) ၏ ခွင့်ပြုချက်ဖြင့် လူထု လွတ်ငြိမ်းချမ်းသာခွင့် အဖြစ် ၂၀၂၂ ခုနှစ် နိုဝင်ဘာလ ၁၇ ရက်နေ့တွင် ထောင်မှလွတ်မြောက် လာပြီးနောက် ပြစ်မှုထင်ရှား စီရင်ခြင်းခံခဲ့ရသော သြစတေးလျ လူမျိုး စီးပွားရေး ပညာရှင် ရှောင်တာနယ်သည် SAC ကို "လူယုတ်မာများနှင့် အရူးများ" ဟု လျှင်မြန်စွာပင် ခေါ်ဝေါ် ခဲ့သည်။ ဤအရာနှင့် အခြားသော SAC ကိုဆန့်ကျင်သည့် အပျက်သဘောဆောင်သော ၎င်း၏ မှတ်ချက်များကြောင့် ၎င်း၏ လွတ်ငြိမ်းချမ်းသာခွင့် ကို လျှင်မြန်စွာပင် ဒီဇင်ဘာလတွင် ပြန်လည်ရုပ်သိမ်းလိုက်သည်။ တာနယ်၏ "လူယုတ်မာ" ဟု သုံးနှုန်းပုံနှင့် ပတ်သက်ပြီး ၎င်း၏ မြန်မာနိုင်ငံအတွင်း လုပ်ဆောင်မှုများကို သေချာ စီစစ်ကြည့်လျှင် "မြွေမြွေချင်း ခြေမြင်တယ်" ဟုသာ ဆိုရပေမည်။

အကြံပေးသူ လား ဒါမှမဟုတ် ကိုယ့်ဘာကိုယ်ခန့်အပ်ထားတဲ့ နိုင်ငံရေး လှည့်ဖြားသူ လား။

တာနယ်သည် Reserve Bank of Australia မှ analyst ဟောင်း တစ်ဦး ဖြစ်ပြီး Sydney မြို့ရှိ Macquarie တက္ကသိုလ်တွင် စီးပွားရေးပညာရပ် ဆိုင်ရာ ပါမောက္ခ တစ်ဦး ဖြစ်ပါသည်။ မြန်မာနိုင်ငံ၏ စီးပွားရေး ပိတ်ဆို့ကာလ ဖြစ်သော ၁၉၉၀ ခုနှစ်များ ဝန်းကျင် နှင့် ၂၀၀၀ ခုနှစ်များ

အစောပိုင်း ဝန်းကျင် ကာလများအတွင်း မြန်မာနိုင်ငံကို နိုင်ငံတကာမှ စီးပွားရေးပညာရှင်များ သိပ်စိတ်မဝင်စားသေးချိန်တွင် တာနယ်သည် မြန်မာ့စီးပွားရေးကို ၎င်း၏ အထူးပြုပညာရပ် အဖြစ် အထူးလေ့လာခြင်းဖြင့် ၎င်း၏အသက်မွေးဝမ်းကြောင်းပြုမှု တစ်ခုကို ပုံဖော်ခဲ့သည်။ ၎င်း၏ မြန်မာ့စီးပွားရေး စိတ်ဝင်စားမှုနှင့် Sydney မြို့ရှိ မြန်မာလူမျိုးများ အုပ်စုမှ အဆက်အသွယ်များကြောင့် အမျိုးသား ဒီမိုကရေစီ အဖွဲ့ချုပ် (NLD) နှင့် အဆက်အသွယ်ရခဲ့သည်။

NLD အစိုးရအတွက် တာနယ်၏ အခန်းကဏ္ဍအတိအကျမှာ သေချာ မရှင်းလင်းပေ။ NLD နှင့် ဒေါ်အောင်ဆန်းစုကြည်တို့နှင့် ပတ်သက်ပြီး ၎င်း၏ ဝင်ရောက်ပါဝင်လာမှုမှာ NLD အစိုးရမတက်မီ ကာလက စတင်ခဲ့သော်လည်း ၎င်း၏ နောက်ပိုင်း တရားဝင် အစိုးရအကြံပေး ဖြစ်လာပုံ အသေးစိတ်မှာ သေချာမသိရပေ။ သို့သော်လည်း NLD အစိုးရလက်ထက်အတွင်း ရန်ကုန်မြို့တွင်း ကောလဟာလမှာ တာနယ်ဟာ NLD အစိုးရကို ကူညီထောက်ပံ့ရန် သူ့ဘာသူ အခကြေးငွေမယူဘဲ ကူညီဆောင်ရွက်ခဲ့ပြီး သူ၏ (ကန့်သတ်ထားသော) စီးပွားရေး အထောက်အထားများ အသိပညာများဖြင့် သူ့ဘာသူ ရာထူးခန့်အပ်ပြီး ဆောင်ရွက်ရန် NLD ကလည်းခွင့်ပြုခဲ့သည်။ ထို ကောလဟာလများအရ ဒေါ်အောင်ဆန်းစုကြည်သည် သူမ၏ အစိုးရကာလ အတွင်းတွင် တာနယ်နှင့် မကြာခဏ တွေ့ဆုံဆွေးနွေးမှုများ ပြုလုပ်ခဲ့သော်လည်း တာနယ် ပြောသမျှကိုမူ ယေဘုယျအားဖြင့် နားထောင်ခဲ့ခြင်းမရှိခဲ့ပေ။

တာနယ်၏ NLD ရှင်လန်းစေခြင်း သရုပ်ဖော်ဥပမာများနှင့် လုပ်ငန်းတာဝန်အပေါ် သူကျင့်သုံးခဲ့သည့် သံသယဖြစ်ဖွယ် ကောင်းသော တိကျမှန်ကန်မှုတို့သည် NLD အစိုးရလက်ထက်တွင် ထင်ရှားခဲ့သည်။ ၂၀၁၅ ခုနှစ် အစောပိုင်းအတွင်းတွင် မြန်မာနိုင်ငံတွင်း ဟောပြောပွဲ ခရီးစဉ်တစ်ခု ဖြစ်သည့် ရန်ကုန်မြို့ရှိ Australia Club ၌ ကျင်းပသော ပွဲလေးတစ်ခုတွင် တာနယ်သည် သူဟာ NLD ၏ စီးပွားရေးမူဝါဒများ အသေးစိတ် ပြင်ဆင်ရာတွင် ပါဝင်ခဲ့ကြောင်း ဆိုခဲ့သည်။ သူက ထိုအချိန်တွင် ထိုမူဝါဒများကို မကြာမီ ထုတ်ပြတော့မည်ဟု မျှော်မှန်းနေခဲ့သည်။ ၂၀၁၆ ခုနှစ် ဇူလိုင်လကုန် (အာဏာရပြီး လေးလအကြာ) တွင် NLD ဟာ ၎င်း၏ ပထမဦးဆုံး စီးပွားရေး 'မူဝါဒများ'ကို ထုတ်ပြန်ခဲ့သောအခါ မပြည့်စုံသော အချက် ၁၂ ချက်သာ ပါဝင်ခဲ့သည်။ Myanmar Times စာဆောင်တစ်ခုတွင် စီးပွားရေး မူဝါဒကို ရေးဆွဲပြင်ဆင်ခြင်း ဟာ "ရိုးရိုးပြေးခြင်းမျိုးမဟုတ်လဲ မာရသွန် အပြေးပြိုင်ပွဲ ပြေးခြင်းမျိုး" ဖြစ်သည် ဟု ဆိုပြီး မူဝါဒများကို အသေးစိတ် ပြင်ဆင်ရေးဆွဲနိုင်ရန် NLD ကို အချိန်များများ ခွင့်ပြုပေးသင့် ကြောင်းလည်းဆိုကာ ၎င်း၏ ဖရိုဖရဲ ဖြစ်နေသော ကွာစီ မူဝါဒကို ကာကွယ်ပြောဆိုခဲ့သည်။ ဤပြောဆိုဖော်ပြချက်များသည် ၂၀၁၅ ခုနှစ်က ၎င်းပြောခဲ့သော စကားများနှင့် လုံးဝပြောင်းပြန် ဖြစ်နေသည်။ အဘယ်ကြောင့်ဆိုသော် ၂၀၁၅ ခုနှစ်တွင် ၎င်းပြောခဲ့သည်မှာ NLD ဟာ ၂၀၁၅ ခုနှစ်

ရွေးကောက်ပွဲ မတိုင်မီကပင် စီးပွားရေးမူဝါဒများကို အသေးစိတ် ပြင်ဆင်ရေးဆွဲပြီးနေကြောင်းပင် ဖြစ်သည်။

နောက်ထပ်ဥပမာတစ်ခုမှာ ၂၀၁၇ ခုနှစ်တွင် နေပြည်တော်၌ ကျင်းပခဲ့သော မြန်မာ-အီးယူ စီးပွားရေး ဖိုရမ်၏ အဖွင့်ဆွေးနွေးပွဲ အချိန်အတွင်းတွင် တာနယ်သည် ထူးထူးခြားခြားနှင့် သံသယဖြစ်ဖွယ် အရေးဆိုမှုတစ်ခု ပြုလုပ်ခဲ့သည်။ ၎င်းမှာ NLD အာဏာရပြီးနောက်ပိုင်း မြန်မာနိုင်ငံ၏ နှေးကွေးနေသော စီးပွားရေး စွမ်းဆောင်ရည်မှာ တကယ်တော့ NLD ၏ ကျွမ်းကျင်သော စီးပွားရေး စီမံခန့်ခွဲမှု ပင်ဖြစ်ကြောင်း ဆိုခဲ့ခြင်းပင်ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ငွေကြေးဖောင်းပွမှုကို ထိန်းညှိပေးရန် တကယ်လိုအပ်နေသော စီးပွားရေး နှောင့်နှေးကြန့်ကြာမှုကို တမင်တကာ ဖန်တီးနိုင်ခဲ့သောကြောင့် ပင်ဖြစ်သည်ဟု ၎င်းကဆိုခဲ့သည်။ ကြားဖူးနားဝအရ မြန်မာနိုင်ငံရှိ စီးပွားရေးလုပ်ငန်းရှင်များသည် သက်ဆိုင်ရာကာလများအတွင်းယေဘုယျအားဖြင့် သဘောတူကြသည်မှာ ဦးသိန်းစိန် အစိုးရလက်ထက်အတွင်း စီးပွားရေး တဟုန်ထိုး တိုးတက်စပြုလာခဲ့ပြီးနောက် ၂၀၁၅ ခုနှစ်ရှေ့ပိုင်း နှစ်ဝက် အတွင်းတွင် ၎င်းနှစ် နိုဝင်ဘာလ ရွေးကောက်ပွဲ ရလဒ်နှင့် အဖြစ်အပျက်များနှင့် ပတ်သက်၍ ရင်းနှီးမြှုပ်နှံသူများ တွန့်ဆုတ်မှုကြောင့် စီးပွားရေး နှောင့်နှေးစပြုလာကြောင်းနှင့် NLD အစိုးရဖြစ်လာပြီးနောက်ပိုင်းတွင်လည်း ယခင် အဆင့်နှင့်တူညီသော အခြေအနေ သို့ ဘယ်တော့မှ ပြန် မတက်လာတော့ကြောင်းပင်ဖြစ်သည်။ အကယ်၍ NLD သည် ၎င်းတို့ ရွေးကောက်တင်မြှောက်ခြင်း မခံရသေးမီက စတင်ခဲ့သော စီးပွားရေးနှောင့်နှေးမှုကို တမင်တကာ လမ်းကြောင်းပေးနိုင်ခဲ့သည်ဆိုလျှင် ၎င်း၏ စီးပွားရေးတွေးခေါ်ဖန်တီးရှင်များမှာ စင်စစ် မှော်ဆရာများပင် ဖြစ်ပေလိမ့်မည်။

<u>ကျောက်ဖြူစီမံကိန်း</u>

အကြီးကျယ်ဆုံးနှင့် အထိရောက်ဆုံး ဖြစ်နိုင်ခြေရှိသော တာနယ်၏ ပါတီဝင် PR လှုပ်ရှားမှု ဥပမာတစ်ခုမှာ ကျောက်ဖြူစီမံကိန်းကို ဦးဆောင်ဝေဖန်နေမှုပင် ဖြစ်သည်။ ကျောက်ဖြူသည် ရေနက်ဆိပ်ကမ်းနှင့် အထူးစီးပွားရေးဇုန် စီမံကိန်း ဖြစ်သည်။ မြန်မာနိုင်ငံ၏ လူဦးရေ အများစုမှာ [စိုက်ပျိုးရေးဖြင့် တိုက်ရိုက်သော်လည်းကောင်း သွယ်ဝိုက်၍သော်လည်းကောင်း အသက်မွေးဝမ်းကြောင်း ပြုကြသည်။]() သို့သော်လည်း မြန်မာနိုင်ငံတွင် ကမ္ဘာ့ဈေးကွက်များသို့ ပင်လယ်ရေကြောင်းလမ်းဖြင့် ကူးသန်းဆက်သွယ်ပေးနိုင်သည့် ကောင်းမွန်သော ရေနက်ဆိပ်ကမ်းမရှိပေ။ ထို့အပြင် ကြီးမားသော အိမ်နီးချင်းဈေးကွက်ဖြစ်သည့် တရုတ်နိုင်ငံသို့ ထိရောက်သော ကုန်းလမ်းပို့ဆောင်ရေး ဆက်သွယ်ပေးနိုင်မှုလည်း မရှိပြန်ပေ။ ဤအရာသည် မြန်မာနိုင်ငံ၏ ထုတ်ကုန်နှင့် ကုန်သွယ်မှု လုပ်ငန်းများ တိုးတက်ရေးနှင့်

ပြည်တွင်းကုန်ထုတ်လုပ်မှု၏ အလားအလာနှင့် အကျိုးကျေးဇူးများ အပြည့်အဝ ရရှိစေရေး တို့ အတွက် သိသာထင်ရှားသော အဟန့်အတား တစ်ခုပင်ဖြစ်ပါသည်။ ထို့ကြောင့် ကျောက်ဖြူနှင့် တရုတ်ပြည်မကြီး အကြား နယ်စပ်ကုန်သွယ်ရေး လမ်းကြောင်းများ အတွက် ကားလမ်း၊ ရထားလမ်း ဆက်သွယ်ပေးနိုင်မှု အပါအဝင် ကျောက်ဖြူ စီမံကိန်းသည် မြန်မာနိုင်ငံတွင် အထင်ရှားဆုံးသော သယ်ယူပို့ဆောင်ရေးနှင့် စက်မှုဆိုင်ရာ အခြေခံအဆောက်အဦ တိုးတက်မှု အစပြုမှုပင် ဖြစ်ပေလိမ့်မည်။ ထို့အပြင် မြန်မာနိုင်ငံ၏ စီးပွားရေးနှင့် ပြည်သူများ အတွက် အသွင်ကူးပြောင်းရေး အလားအလာလည်း ဖြစ်ပေသည်။

တရုတ်နိုင်ငံပိုင် ရင်းနှီးမြှုပ်နှံမှု ကုမ္ပဏီ ဦးဆောင်သော လုပ်ငန်းစုတစ်ခု ဖြစ်သည့် China International Trust Investment Corporation (CITIC) ကို ကျောက်ဖြူစီမံကိန်း ဆောက်လုပ်ရန်နှင့် လည်ပတ်ရန် တင်ဒါများကို ၂၀၁၅ ခုနှစ် ဒီဇင်ဘာလတွင် ခွင့်ပြုခဲ့သည်။ ရေနက်ဆိပ်ကမ်း စီမံကိန်း အတွက် အဆိုပြုထားသော အဆင့်လေးဆင့်အတွက် ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ အမေရိကန် ဒေါ်လာ ၇.၂ ဘီလီယံ ဖြစ်သည်။ ၎င်းနှင့် ဆက်နွယ်နေသည့် အခြား အထူးစီးပွားရေးဇုန် စီမံကိန်းမှာ အမေရိကန် ဒေါ်လာ ၂ ဘီလီယံဖိုး ရင်းနှီးမြှုပ်နှံမှု ထပ်လောင်းလိုအပ်ခဲ့သည်။ မှတ်တမ်းများအရ စီမံကိန်းအတွက် မူလ တရားဝင် ဖွဲ့စည်းတည်ဆောက်ထားပုံမှာ အစိုးရက ချေးငွေရယူရန် မလိုအပ်ခဲ့ပေ။ သို့သော် ပိုင်ဆိုင်မှုအခြေပြု ဖက်စပ်လုပ်ငန်းလုပ်ရန် လိုအပ်ခဲ့သည်။ ၎င်းမှာ လေလံအောင်သူက ပိုင်ဆိုင်မှု၏ ၈၅% ကို ရယူပြီး မြန်မာအစိုးရက ကျန်ရှိနေသော ၁၅% ကို ရယူရန်ဖြစ်သည်။ စီမံကိန်း ချေးငွေရယူရန် ကိစ္စရှိလျှင် ၎င်းမှာ ဖက်စပ်လုပ်ငန်း ကုမ္ပဏီ၏ တာဝန်ဖြစ်သည်။ မြန်မာအစိုးရ၏ တာဝန်မှာ စီမံကိန်း ကုန်ကျစရိတ်ကို ၎င်း၏ ပိုင်ဆိုင်မှု အချိုးအစားအတိုင်း ထည့်ဝင်ရန်ဖြစ်သည်။ သို့သော်လည်း ၎င်း၏ ၁၅% အစုဝင်မှာ နောက်ပိုင်းတွင် မည်သည့် ဖက်စပ်လုပ်ငန်းချေးငွေအတွက်မဆို ပြန်လည်ပေးဆပ်ရန် တာဝန်မရှိသော 'free carried' နည်းလမ်းဖြင့် ထည့်ဝင်မည် ဖြစ်သည်။

မြန်မာအစိုးရအတွက် ဤသို့အားသာသော ဖွဲ့စည်းတည်ဆောက်မှု ရှိနေသော်လည်း NLD အစိုးရတက်ပြီးနောက်ပိုင်းတွင် အချက်အလက်သေချာမသိဘဲ တရုတ်ဆန့်ကျင်ရေး စိတ်ဓာတ်များ ပေါ်ပေါက်လာကာ ဤဖက်စပ်လုပ်ငန်း ဖွဲ့စည်းပုံကို ပြန်လည်ဆွေးနွေးရန် NLD အစိုးရက ဆုံးဖြတ်ခဲ့သည်။ CITIC လုပ်ငန်းစုသည်လည်း ကုန်ကျစရိတ် အတွက် ထည့်ဝင်မှုများနှင့် ပတ်သက်၍ စီးပွားရေးဆိုင်ရာ မရွေ့ပြောင်းနိုင်သော ပစ္စည်းများကို လိုက်လျောညီထွေဖြစ်အောင် ပံ့ပိုးကူညီပေးနိုင်မှု အခြေအနေ ပေါ်မူတည်ပြီး ဖက်စပ်လုပ်ငန်းအတွင်း ထည့်ဝင်မှု ပမာဏများကို ပြန်လည် ချိန်ညှိရန် ချက်ချင်း သဘောတူခဲ့သည်။ ထိုအချက်ကြောင့် NLD အစိုးရဘက်မှ ပြန်လည်ဆွေးနွေးရန် တွန်းဆုတ်ကာ တော်တော်ကြာကြာ အချိန်ဆွဲခဲ့သည်။ NLD

အစိုးရသက်တမ်းကုန်သည် အထိ စီမံကိန်း သဘောတူညီချက်များ အပြည့်အစုံ ရရှိရန်မှာ အလွန်ဝေးခဲ့ပေသည်။ (၂၀၂၁ခုနှစ် SAC အစိုးရလက်ထက်တွင် စာချုပ်စာတမ်းဆိုင်ရာ ဆွေးနွေးမှုများ စတင်ခဲ့ပြီး ၂၀၂၂ခုနှစ်အတွင်း ဆွေးနွေးမှုများ ပြီးဆုံးခဲ့ ပြီဟုထင်ရသည်။)

၂၀၁၈ခုနှစ်အတွင်း တာနယ်ဟာ စီမံကိန်း ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ မတည်ရင်းနှီးငွေ အလွန့်အလွန်များလွန်းကြောင်း၊ 'မိုက်ရူး'ပြီး 'အဓိပ္ပာယ်မဲ့'ကြောင်း ဝေဖန်ကာ ကျောက်ဖြူကိစ္စကို လူသိရှင်ကြား ပါဝင်ဆွေးနွေးခဲ့သည်။ ထူးထူးဆန်းဆန်း ဤထက် ပိုကြာမြင့်စွာ အဆိုပြုထားပြီး ပိုနှောင့်နှေးနေသော မြန်မာနိုင်ငံ တောင်ပိုင်းရှိ ထိုင်းနိုင်ငံ ကျောထောက်နောက်ခံရှိသော ထားဝယ် ရေနက်ဆိပ်ကမ်းနှင့် အထူးစီးပွားရေးဇုန် စီမံကိန်းမှာ ရင်းနှီးမြှုပ်နှံမှု ကုန်ကျစရိတ် အမေရိကန် ဒေါ်လာ ၁၀ ဘီလီယံကျော်ရှိသော်လည်း ၎င်းကိုမူ ထိုကဲ့သို့ မဝေဖန်ခဲ့ပေ။

'ကြွေးမြီထောင်ချောက်' ထောင်ချောက်ဆင်ခြင်း

တာနယ်သည် မြန်မာအစိုးရဟာ ကျောက်ဖြူ စီမံကိန်းတွင် ငွေကြေး ထည့်ဝင်နိုင်ရန် ဆိုလျှင် အမေရိကန်ဒေါ်လာ ၂ဘီလီယံမှ ၃ဘီလီယံအထိ ချေးယူရန်လို အပ်ကြောင်း 'ကြွေးမြီထောင်ချောက်' အန္တရာယ် အလားအလာကို လမ်းကြောင်းပေးခဲ့သည်။ မြန်မာအစိုးရအနေဖြင့် ပိုင်ဆိုင်မှု ဖက်စပ်လုပ်ငန်းအတွက် တိုက်ရိုက် ချေးငွေရယူရန် တာဝန်မရှိကြောင်း သိသော်လည်း ထိုသို့ လမ်းကြောင်းပေးခဲ့ခြင်းဖြစ်သည်။ အစုရှယ်ယာရှင်များသည် (အဆိုပါအစုရှယ်ယာရှင်က ချေးငွေပြန်လည်ပေးဆပ်ရန် သီးခြားတိုက်ရိုက် အာမခံမှု ပြုလုပ်ထားသည့် အခြေအနေမျိုးမှလွဲ၍) ၎င်းတို့ ရှယ်ယာများရှိနေသည့် ကုမ္ပဏီမှ ချေးယူထားသည့် ချေးငွေများကိုပြန်လည်ပေးဆပ်ရန် တာဝန်မရှိပေ။ ဤအရာမှာ စီးပွားရေးနှင့် ငွေကြေးဆိုင်ရာ ဥပဒေ၏ ကျိုးကြောင်းဆီလျော်သည့် အသေးအမွှား အခြေခံအချက်အလက်မျိုး ဖြစ်သည့် အားလျော်စွာ ဝါရင့် စီးပွားရေးပညာရှင်တစ်ယောက် အနေဖြင့် သိကို သိနေရမည့် အချက်မျိုးပင်ဖြစ်သည်။

တာနယ်သည် ယခုအခါ 'တရုတ် ကြွေးမြီထောင်ချောက်' ဥပမာ အဖြစ် ကျော်ကြားနေသော သီရိလင်္ကာနိုင်ငံရှိ Hambantota ဆိပ်ကမ်းစီမံကိန်းကို သေချာနှိုင်းယှဉ်သုံးသပ်ခြင်း မရှိခဲ့ပေ။ သူသည် မြန်မာနိုင်ငံကို အကြွေးထောင်ချောက် အန္တရာယ်များမှ ကူညီကာကွယ်နိုင်ရန် ရည်ရွယ်ချက်ဖြင့် ဟုဆိုကာ Hambantota ကို စုံစမ်းစစ်ဆေးရန် သီရိလင်္ကာနိုင်ငံသို့ ဂျက်လေယာဉ်ဖြင့် သွားရောက်ခဲ့ပြီးဖြစ်သည်။ သူသည် အဆိုပါသွားရောက်မှုမှ တစ်စုံတစ်ရာလေ့လာခဲ့သည် ဆိုလျှင် Hambantota စီမံကိန်းသည် ကျောက်ဖြူ စီမံကိန်းနှင့် အနည်းငယ်သာ ဆင်တူကြောင်း သိပေလိမ့်မည်။ သီရိလင်္ကာအစိုးရသည် Hambantota ကို

ငွေကြေးထောက်ပံ့ရန် တိုက်ရိုက် ငွေချေးခဲ့ပြီး ဆိပ်ကမ်းဆောက်လုပ်ရန် တရုတ် ဆောက်လုပ်ရေးကုမ္ပဏီများနှင့် ချိတ်ဆက်ခဲ့သည်။ အဆိုပါချေးငွေမှာ ချေးငွေအတိုင်းရှိနေသည်။ တရုတ်ကုမ္ပဏီများသည် ယခုအခါ ဆိပ်ကမ်း အဆောက်အအုံပစ္စည်းများကို ရေရှည် လည်ပတ် ငှားရမ်းခွင့် ရယူလိုက်သည်။ သို့သော်လည်း ၎င်းအပေးအယူမှာ အကြွေးသိမ်းယူပိုင်ခွင့် အဖြစ် ဆွေးနွေးသဘောတူခဲ့ခြင်း မဟုတ်ပေ။ သီရိလင်္ကာအစိုးရသည် ရေရှည် လည်ပတ် ငှားရမ်းခွင့်ကို ပေး၍ ငှားရမ်းခကို ကြိုယူနိုင်ရန် သက်ဆိုင်ရာ တရုတ်ကုမ္ပဏီများကို ချဉ်းကပ်ခဲ့သည်။ သီရိလင်္ကာနိုင်ငံသည် ထိုကြိုပေးငွေကို အခြား ငွေချေးပေးသူများထံ တင်ကျန်နေသော အကြွေးများ ကို ပေးဆပ်ရန် လိုအပ်နေခဲ့သည်။ သီရိလင်္ကာနိုင်ငံအတွက် မကြာသေးမီက အပြည်ပြည်ဆိုင်ရာ ငွေကြေးရန်ပုံငွေအဖွဲ့မှ ထောက်ပံ့ခဲ့သော ပဏာမ ထောက်ပံ့ငွေ မရသေးမီအချိန်တွင် သီရိလင်္ကာအစိုးရ၏ ကြွေးမြီစုစုပေါင်း ၏ ၁၀% ကျော်ကျော်မှာ တရုတ်အပေါ်တွင် တင်ရှိနေခဲ့သည်။ ၎င်း၏ ချေးငွေအများစုကို World Bank, Asian Development Bank နှင့် အနောက်နိုင်ငံများရှိ ဘဏ္ဍာရေး အဖွဲ့အစည်းကြီးများထံမှ နိုင်ငံပိုင်ငွေချေးစာချုပ်များ အပါအဝင်နှင့် ဂျပန်အစိုးရတို့မှ ရရှိခဲ့သည်။

အထူးသဖြင့် China Africa Research Initiative၏ ဒါရိုက်တာ နှင့် Johns Hopkins တက္ကသိုလ်မှ ပါမောက္ခဖြစ်သော Deborah Brautigam၏ အသေးစိတ်သုတေသနကြောင့် တရုတ် ကြွေးမြီထောင်ချောက် ဒဏ္ဍာရီကို အကြိမ်ပေါင်းများစွာ မြန်မြန်ဆန်ဆန် စမ်းစစ် အဖြေရှာခဲ့ကြဖူးသည်။ Brautigam၏ ဖော်ပြချက်များအတွက် အသေးစိတ် သုံးသပ်ချက်များကို သီးခြားဆောင်းပါး တစ်ခု သို့မဟုတ် မြောက်များစွာဖြင့် ဖော်ပြရပေလိမ့်မည်။ သို့သော် ချုံ့ ပြောပြရလျှင် (တရုတ်ဘဏ်များသည် ငွေချေးသူ အမှားတစ်ခုခု ပြုမိသောအခါ ပစ္စည်း သိမ်းယူမည့်အစား ချေးငွေ စည်းကမ်းချက်များကို ပြန်လည် ပြင်ဆင်ခြင်းမျိုးကိုသာ အမြဲတမ်းလိုလို ပြုလုပ်လေ့ရှိသောကြောင့်) နိုင်ငံခြား အခြေခံအဆောက်အဦ စီမံကိန်းများ အတွက် တရုတ်မှ ထောက်ပံ့သော ချေးငွေများသည် သဘာဝကျကြောင်း၊ လိုက်လျောညီထွေရှိကြောင်း၊ ခေါင်းပုံဖြတ်ခြင်း မဆန်ကြောင်း ၎င်း၏ သုတေသနက အတည်ပြုထားသည်။ Brautigam၏ ဖော်ပြချက်များကို ယခုအခါ တဖြည်းဖြည်းနှင့် လက်ခံလာခဲ့ကြသည်။ အမေရိကား၏ ဘဏ္ဍာရေး မီဒီယာကြီးဖြစ်သော Bloomberg ကတောင်မှ ဘာကြောင့် တရုတ် ကြွေးမြီထောင်ချောက်ပုံပြင် ဟာ ဒဏ္ဍာရီ တစ်ပုဒ်ဖြစ်နေကြောင်း အကျဉ်းချုပ် ဖော်ပြထားသော YouTube ဗီဒီယို တစ်ခု ရှိပါသည်။

'စိုးရိမ်မှု' လွဲမှားနေတာလား။

တာနယ်ဟာ မကြာခဏဆိုသလို မြန်မာလူမျိုးများအပေါ် စိုးရိမ်ကြောင်း၊ ဂရုစိုက်ကြောင်း ပြောပြလေ့ ရှိသော်လည်း မြန်မာနိုင်ငံ အတွင်း အရေးကြီးသော အခြေခံအဆောက်အဦ အသွင်ပြောင်း ဖွံ့ဖြိုးတိုးတက်ရေးတွင် တရုတ်ကဏ္ဍ ပါဝင်လာလျှင် အတိုင်းအတာတစ်ခု အထိသာ စိုးရိမ်ပေးပုံရသည်။ သူထောင်မှ ထွက်လာပြီးနောက်တွင် တာနယ်သည် ရုရှားနိုင်ငံအပေါ် ၂၀၂၂ ခုနှစ်အတွင်းက ချမှတ်ခဲ့သော ပိတ်ဆို့အရေးယူမှုများ နည်းတူ မြန်မာနိုင်ငံကို ပိတ်ဆို့အရေးယူမှုများ ချမှတ်သင့်ကြောင်း ထောက်ခံ ပြောဆိုမှုများ ရှိခဲ့သည်။ စီးပွားရေး ပိတ်ဆို့အရေးယူမှုများသည် ပစ်မှတ်နိုင်ငံများရှိ အများပြည်သူ ကျန်းမာရေး အခြေအနေများ၊ စီးပွားရေး အခြေအနေများ၊ ပြည်သူများ၏ ရုပ်ပိုင်းဆိုင်ရာ လုံခြုံရေး တို့ကို ပိုမိုဆိုးရွားလာစေခြင်း တို့ အားဖြင့် ပြည်သူများကို သိသိသာသာ နစ်နာစေကြောင်းမှာ ထင်ရှားလှသည်။ ထိုပိတ်ဆို့အရေးယူမှုများသည် မည်သည့် နိုင်ငံရေးပန်းတိုင်ကိုမဆို ထိရောက်အောင်မြင်အောင် အကျိုးသက်ရောက်စေနိုင်သည်ဟူသော အဖြစ်မျိုးမှာ အလွန်ရှားပေသည်။

မြန်မာပြည်သူများ၏ စီးပွားရေး အခြေအနေကို ဖွံ့ဖြိုးတိုးတက်စေသော အရေးကြီးသော အခြေခံအဆောက်အဦ ဖွံ့ဖြိုးတိုးတက်မှုကို နှောင့်နှေးကြန့်ကြာစေလိုသော သို့မဟုတ် ငြင်းပယ်လိုသော သဘောဆန္ဒမျိုး နှင့် မြန်မာနိုင်ငံ၏ စီးပွားရေး အရင်းအမြစ်များကို ဖျက်ဆီးပစ်နိုင်ခြေရှိသော မကောင်းသော ပိတ်ဆို့အရေးယူမှုများကို ထောက်ခံလိုသော သဘောဆန္ဒမျိုး တို့သည် တာနယ်၏ မြန်မာပြည်သူများကို ချစ်ပါသည်ဆိုသော အဆိုကို ဘယ်လိုများ ထောက်ခံဖော်ပြနိုင်ပါသလဲလို့ စဉ်းစား ရပေလိမ့်မည်။

Neo-liberal အထောက်အထားများနှင့် US အချိတ်အဆက်များ

၎င်း၏ ရည်မှန်းချက်များနှင့် စိတ်အားထက်သန်မှုများကို ကြည့်ခြင်းအားဖြင့် တာနယ်၏ အားထုတ်မှုသည် PR လှုပ်ရှားမှုများ အတွက်သာ ကန့်သတ်ထားသည့် အတွက် မြန်မာနိုင်ငံအနေဖြင့် ကျေးဇူးတင်ရပေလိမ့်မည်။ ၂၀၁၀ ခုနှစ်တွင် တာနယ်သည် US အစိုးရ ကိုယ်စားလှယ်များနှင့် တွေ့ခဲ့သော သူ၏ Washington မြို့သို့ သွားရောက်မှုများကို လူအများသိအောင် ရည်ညွှန်းပြောဆိုခဲ့သည်။ ထိုသို့ တွေ့ဆုံရခြင်းမှာ မြန်မာနိုင်ငံ အစိုးရနှင့် ပတ်သက်ပြီး ၎င်းတို့၏ အမြင်များနှင့် လမ်းညွှန်ချက်များ ဆွေးနွေးတင်ပြကြရန် ဖြစ်သည်။ ဤကိစ္စတွင် ပိုမို သိသာစေသည့် အချက်မှာ တာနယ်သည် မြန်မာနိုင်ငံနှင့် ပတ်သက်ပြီး US မှ ချမှတ်သင့်သည့် မူဝါဒ နည်းလမ်းများအပေါ် ထင်မြင်ချက်ကို ဖော်ပြသည့် ၂၀၁၀ ခုနှစ် မတ်လ

အစီရင်ခံစာ ကို ပြင်ဆင်ရန် တာဝန်ရှိသော Asia Society Task Force ၏ အသင်းဝင်တစ်ဦး ဖြစ်ခဲ့သည်။

Asia Society သည် ကြာမြင့်စွာ လူသိများလှသည့် CIA ၏ ရှေ့ပြေးဖြစ်သည်။ Asia Society ကို John D. Rockefeller III က ၁၉၅၆ ခုနှစ်တွင် တည်ထောင်ခဲ့သည်။ ၎င်း၏ အလှူရှင်များနှင့် ပူးပေါင်းဆောင်ရွက်သူများ တွင် Carnegie Corporation၊ Rockefeller Foundation၊ Ford Foundation၊ George Soros ၏ Open Society Foundation နှင့် Soros ကိုယ်တိုင် (အစီရင်ခံစာကို ရေးသားခဲ့သည့် Task Force ၏ အသင်းဝင်တစ်ဦးလည်း ဖြစ်သူ)ပင် ပါဝင်နေပါသည်။ စာရင်းသည် - အမေရိကန် နိုင်ငံခြားရေး ဝန်ကြီးဌာနနှင့် နိုင်ငံလုံခြုံရေး ယန္တရားများ၏ နိုင်ငံခြားသြဇာလွှမ်းမိုးမှု ဆိုင်ရာ လုပ်ငန်းဆောင်ရွက်မှုများအတွက် လှုံ့ဆော်ရန် နှင့်/ သို့မဟုတ် တိုက်ရိုက် အကျိုးသက်ရောက်စေရန် - ကာလကြာရှည်စွာတည်ထောင်ထားသည့် ပရဟိတ အဖွဲ့အစည်းများနှင့် အစိုးရမဟုတ်သော အဖွဲ့အစည်းများ၏ အမည်စစ် စာရင်းတစ်ခု ကဲ့သို့ပင်ဖြစ်နေသည်။

Asia Society အစီရင်ခံစာတွင် ပစ်မှတ်နိုင်ငံ၏ အစိုးရနှင့် လူ့အဖွဲ့အစည်း အတွင်း အမေရိကန်၏ လွှမ်းမိုးမှုများကို သွယ်ဝိုက်ကာ သိမြင်လာစေရန် ချမှတ်ထားသော အမေရိကန်၏ မဟာဗျူဟာ စံနမူနာများစွာကို ရှင်းလင်းလွယ်ကူစွာဖော်ပြထားသည်။ တပြိုင်နက်တည်းမှာပင် ထိုအစီရင်ခံစာသည် အစိုးရ၏ အချုပ်အခြာအာဏာကို အဆင့်ကျော်ပြီး အကျိုးဆက်အားဖြင့် လျှော့တွက်အထင်သေးခြင်း အားဖြင့် ပိုင်းခြားရေးနှင့် ခွဲထွက်ရေးတို့ကို တရစပ် အားပေးနေသည်။ အစီရင်ခံစာထဲတွင် အကြံပြုထားသော အချက်များသည် မြန်မာနိုင်ငံ၏ ဥပဒေ၊ တရားစီရင်ရေး၊ အစိုးရလုပ်ငန်း ဝန်ဆောင်မှု၊ စီးပွားရေး နှင့် လုံခြုံရေး ကဏ္ဍများ နှင့် ပတ်သက်ပြီး အမေရိကန်က ထောက်ခံသော ပြုပြင်ပြောင်းလဲမှုများကို အဆုံးစွန်ထိဖော်ပြနေသည်။ တစ်ချိန်တည်းမှာပင် အမေရိကန်၏ သြဇာလွှမ်းမိုးမှုကို လက်ခံသော မြန်မာနိုင်ငံ၏ အုပ်ချုပ်မှုစနစ်၏ အဖွဲ့အစည်းများနှင့် ကဏ္ဍများကို ဖော်ဆောင်ရန် - ပိတ်ဆို့အရေးယူမှုများ ပြန်လည်ချမှတ်နိုင်သည့် အလားအလာရှိစေသော အန္တရာယ်ကို ဖြစ်စေသော အချက်များလည်း ပါဝင်နေသည်။ ထပ်တလဲလဲပြန်ဖြစ်နေသော သမိုင်းက အဆိုပါ 'ပြုပြင်ပြောင်းလဲမှုများ' ကို အောင်မြင်စွာ အကောင်အထည်ဖော်နိုင်မှု၏ ရလဒ်သည် အမေရိကန် စီးပွားရေးနှင့် အုပ်ချုပ်ရေးကို လွှမ်းမိုးနိုင်သော neo-liberal နှင့် neo-imperialism ဖော်ဆောင်သူများ နှင့် အဖွဲ့အစည်းများ က အနိုင်ယူသွားစေရန် လမ်းဖွင့်ပေးနိုင်သော အသုံးချခံရသော နိုင်ငံအဖြစ် ပစ်မှတ်ထားသော နိုင်ငံကို မှတ်ယူနိုင်ကြောင်း ထောက်ထားဖော်ပြနေပါသည်။

တာနယ်သည် Myanmar Development Institute (MDI) တွင် စတင်တည်ထောင်ချိန်မှ ၂၀၂၀ခုနှစ်အထိ သုတေသနဒါရိုက်တာ ဖြစ်ခဲ့သည်။ MDI ကို စီးပွားရေး အတွေးအခေါ်နေရာ အဖြစ် NLD အစိုးရက ဖွဲ့စည်းတည်ထောင်ခဲ့ခြင်း ဖြစ်သည်။ ၎င်းကို တောင်ကိုရီးယား အစိုးရထံမှ အမေရိကန်ဒေါ်လာ သန်း၂၀ ထောက်ပံ့ပေးမှုဖြင့် ဖွဲ့စည်းတည်ထောင်ခဲ့သည်။ ၎င်းသည် USAID မှ ပြုလုပ်သော စွမ်းရည်မြှင့်တင်ရေး အတွက် ခွင့်ပြုငွေ (Asia Society အစီရင်ခံစာ ထဲတွင် အဆိုပြုထားသော နည်းဗျူဟာများကို အကောင်အထည်ဖော်ရန်) ငွေကြေးထောက်ပံ့မှု လက်ခံရရှိခဲ့သည်။ တောင်ကိုရီးယားနိုင်ငံသည် အမေရိကန်နိုင်ငံမှ စီးပွားရေးနှင့် လုံခြုံရေး လွှမ်းမိုးမှု အများအပြားရှိနေသော အမေရိကန်၏ အသုံးချ နိုင်ငံ အဖြစ် လူသိများကြသည်။ တောင်ကိုရီးယားနိုင်ငံ၏ အုပ်ချုပ်ရေးပိုင်းတွင် အမေရိကန် ထိန်းချုပ်မှု အများအပြား ရှိနေသည်။ တောင်ကိုရီးယားထံမှ ပေးပို့လိုက်သော အကူအညီအတွက် ထောက်ပံ့ငွေကို လက်တွေ့တွင် အမေရိကန်က ၎င်း၏ ကိုယ်ပွားကိုယ်စားလှယ် ထံမှတစ်ဆင့် ပေးပို့သော အကူအညီအတွက် ထောက်ပံ့ငွေ အဖြစ် မှတ်ယူနိုင်ပါသည်။ မြန်မာအစိုးရများသည် နိုင်ငံခြားသား အတိုင်ပင်ခံကို တိုက်ရိုက် ရာထူးခန့်အပ်ရန် သို့မဟုတ် ငွေပေးရန် ဝန်လေးနေတတ်ကြသည်။ ထို့အတွက်ကြောင့် တာနယ်ကို ငွေကြေးအမြောက်အမြား မပေးလောက်ပေ။ ဖြစ်နိုင်သည်မှာ NLD အစိုးရသည် သူ့ကို ငွေကြေးလုံးဝ မပေးလောက်ပေ။ သူ၏ US အားပေး၊ neo-liberal နှင့် neo-imperialism တစ်ဖက်သတ်တွေးခေါ်မှုများကို မီးမောင်းထိုးညွှန်ပြရလျှင် သူ၏ NLD အကြံပေး ပြုလုပ်စဉ် ကာလအတွင်း သူ၏ အဓိကနှင့် ဖြစ်နိုင်သည်မှာ တစ်ခုတည်းသော ဝင်ငွေမှာ တောင်ကိုရီးယားနှင့် အမေရိကန် နိုင်ငံတို့က MDI မှ တစ်ဆင့် ထောက်ပံ့ခဲ့သော ငွေကြေးများပင် ဖြစ်နေနိုင်ပါသည်။

ဤယခင်အဖြစ်အပျက်များကို ကြည့်ခြင်းအားဖြင့် မြန်မာနိုင်ငံတွင် တာနယ်၏ ရည်မှန်းထားသော လုပ်ဆောင်ချက်မှာ ခေတ်သစ် နယ်ချဲ့ အမြတ်ထုတ်ခြင်းနှင့် လက်အောက်ခံအဖြစ် သိမ်းပိုက်ခြင်းတို့ အတွက် မြန်မာနိုင်ငံကို ပြင်ဆင်သွားပေးရန် neo-liberal စီးပွားရေး ပြုပြင်ပြောင်းလဲမှုများ ကို အောင်မြင်စွာ မိတ်ဆက် အသက်သွင်းသွားစေရန် ဖြစ်သည်ဟုယူဆလျှင် သင့်လျော်ပါလိမ့်မည်။

ကြိုးစားအားထုတ်မှုအတွက် ဆုလာဘ်လား။

တာနယ်၏ စိတ်ရင်းကို စမ်းသပ်ရာတွင် သူ၏ မကြာသေးမီက ပြုလုပ်ခဲ့သော လုပ်ရပ်များကို သေချာကြည့်ရပေလိမ့်မည်။ သူထောင်မှလွတ်ပြီး သြစတေးလျသို့ ပြန်လာပြီးနောက် သြစတေးလျ အစိုးရ နှင့် စောင့်စားနေသော အနောက်တိုင်းနှင့် အင်္ဂလိပ် ဘာသာစကားသုံးသော မြန်မာ မီဒီယာတစ်ခု မှ အင်းစိန်နှင့် နေပြည်တော် ထောင်များတွင် အခွင့်အရေးချိုးဖောက်ခံရကြောင်းများနှင့် ညှင်းပန်းနှိပ်စက် ခံရကြောင်းများ ဖော်ပြသော သူ၏

အစီရင်ခံစာများ ကို တာဝန်ကျေစွာ ပြန်ဖော်ပြထားပါသည်။ အင်းစိန်ထောင်တွင် ပြင်းထန်စွာ ခံစားခဲ့ရသည့် အခြေအနေများမှာ သံသယ ဖြစ်ဖွယ်မရှိသော်လည်း ထောင်အတွင်း လူသားချင်းစာနာထောက်ထားမှုဆိုင်ရာ လာရောက်လေ့လာသူများကမူ တာနယ် ပြောသလိုမျိုး ကင်းမြီးကောက်များပြားသော အခြေအနေများ မရှိကြောင်း နှင့် အိမ်သုတ်ဆေးပုံးဟောင်းများဖြင့် အကျဉ်းသားများကို ထမင်းမကျွေးသည်မှာ သေချာကြောင်း ထောက်ခံခဲ့သည်။ တာနယ်၏ ပြောဆိုချက်များနှင့် ဆန့်ကျင်နေသည်မှာ မြန်မာနိုင်ငံ၏ အကျဉ်းထောင်စနစ် အတွင်းတွင် ကံမကောင်းစွာ ထောင်ကျခဲ့ဖူးသော အနောက်တိုင်းသား အကျဉ်းသားများ အနည်းစု နှင့် ပတ်သက်၍ ကျင့်သုံးလေ့ရှိသော အလေ့အကျင့်များနှင့်အညီ တာနယ်ကို မြန်မာအကျဉ်းသားများထက် ပိုကောင်းမွန်စွာ ထားရှိဆက်ဆံခဲ့သည်ဟု ထင်ရသည်။

တာနယ် ထောင်မှလွတ်မြောက်လာမှု နှင့်ပတ်သက်သော အစောပိုင်း အစီရင်ခံစာများတွင် သူ၏ အင်းစိန်ထောင်အတွင်းရှိနေစဉ် သူ၏ ထောင်အခန်းဘေးမှ ထောင်တွင်းခင်မင်ခဲ့သူ အကျဉ်းသားအတွက် ဆုတောင်းချီးမွမ်းပေးကြောင်း ပါဝင်သည်။ ထိုအကျဉ်းသားမှာ "ထက်မြက်သူ၊ ရည်မွန်သူ၊ စာနာတတ်သူ" ဖြစ်ကြောင်းနှင့် "မြန်မာနိုင်ငံနှင့် ပတ်သက်ပြီး ကျွန်တော်ချစ်ခင်ရသော အရာအားလုံးကို နမူနာ" ဖော်ပြနေသည့် "မွေးရာပါစွမ်းဆောင်ရည်ရှိသူ" ဖြစ်ကြောင်း ချီးမွမ်းပြောဆိုခဲ့သည်။ ထိုအကျဉ်းသားသည် တာနယ်အတွက် အင်းစိန်ထောင် အတွင်းတွင် အလွန် အသုံးဝင်သော အိမ်ဖော်အလုပ်သမားတစ်ယောက် ကဲ့သို့ပင် အားလုံးကူညီပေးခဲ့ကြောင်း ပြောပြထားသည်။ ၎င်း ပြောဆိုထားသည်မှာ "သူ ကျွန်တော့်အတွက် အားလုံးကို ကူညီပေးတယ်။ ကျွန်တော့်အတွက် ချက်ပြုတ်ပေးတယ်။ အဝတ်လျှော်ပေးတယ်။ ထောင်ခန်းရှင်းပေးတယ်။ .... သူ ကျွန်တော့်အတွက် ဓားတစ်ချောင်း ပြုလုပ်ပေးတယ်။ ကျွန်တော် သူ့ကိုချစ်ပါတယ်။"

ဤဆိုးရွားလှသော ကိုလိုနီနယ်ချဲ့စိတ်ကူးများအပြင် ထူးထူးဆန်းဆန်း စာမူတစ်ခုတွင် ဖော်ပြထားသည်မှာ တာနယ် အကျဉ်းကျနေစဉ် အချိန်က ခင်မင်ခဲ့သော အကျဉ်းသား အဖော်မှာ ခင်မောင်ဆွေ ဖြစ်နေသည်။ ခင်မောင်ဆွေဆိုသည်မှာ ရန်ကုန်တိုင်းဒေသကြီး လွှတ်တော် ပရဝဏ်နှင့် မြို့ထဲ ဈေးဝယ်စင်တာတစ်ခုကို ဖုံးဖောက်ရန် ကြိုးပမ်းအားထုတ်မှုကြောင့် ပြစ်မှုထင်ရှား စီရင်ခြင်းခံရသော အကြမ်းဖက်သမားတစ်ဦး ဖြစ်သည်။ နောက်ထပ် ကြေကွဲဖွယ် ကိစ္စတစ်ခုမှာ တာနယ် ထောင်မှလွတ်မြောက်လာပြီး သိပ်မကြာမီမှာပင် ခင်မောင်ဆွေသေဆုံးခဲ့သည်။ သူ၏ မိသားစုဝင်များနှင့် အချို့သော အကျဉ်းသားများကမူ ခင်မောင်ဆွေသည် အပြင်းအထန် အရိုက်ခံရသောကြောင့် သေဆုံးသွားရသည်ဟု ရိုးစွပ်ကြသည်။

ထိုအချိန်တွင် တာနယ်သည် စာအုပ်တစ်အုပ်ရေးရန် ရည်ရွယ်ထားကြောင်း အင်တာဗျူးများတွင် ကျိုးကြောင်းဆီလျော်အောင် ဖြေကြားကာ ထိုမခိုင်လုံသော အာရုံစိုက်မှုကို ဖုံးကွယ်ထားခဲ့သည်။ ဆန္ဒရှိခဲ့သော မြန်မာဆန့်ကျင်ရေး လှုပ်ရှားမှုများ ပြုလုပ်ပြီးနောက် ယခုအခါ တာနယ်သည် စာအုပ် ထုတ်ဝေရန် ကြိုးပမ်းနေသည်မှာ သံသယရှိဖွယ် မရှိပေ။ ထို့အပြင် အမေရိကန် ကြီးစိုးမှုကို အားပေးခဲ့သောကြောင့် သူ၏ဝန်ဆောင်မှုအတွက် ကြီးမားလှသော ဂုဏ်ထူးဆောင် ပညာရပ်ဆိုင်ရာ အခန်းကဏ္ဍ တစ်ခု အတွက် အာမခံချက်တစ်ခုကို မျှော်လင့်နေလောက်သည်မှာ အသေအချာပင်ဖြစ်သည်။ တစ်ချိန်တည်းမှာပင် မြန်မာနိုင်ငံဟာ အကျင့်စာရိတ္တမရှိမှု၊ သက်ဦးဆံပိုင် အာဏာဆန်မှုနှင့် နိုင်ငံခြား ဩဇာလွှမ်းမှုတို့ ရောနှောနေသော NLD ကြီးစိုးမှုကို ဖယ်ရှားပြီးနောက် အချုပ်အခြာအာဏာတည်မြဲနိုင်ရန် နိုင်ငံတော်တည်ငြိမ်မှုနှင့် ပြန်လည်ဦးတည်လာမှုကို ပြန်လည်တည်ဆောက်ရန် အလွန်ရုန်းကန်နေရသည်။

### လူယုတ်မာ အစစ်များဟာ ဘယ်သူများလဲ။

တာနယ်သည် မြန်မာနိုင်ငံမှ သူ့ပေါ်ပြစ်မှုစွဲဆိုခြင်းဟာ သူသည် ဒေါ်အောင်ဆန်းစုကြည်ကို လိုသလို ကြိုးဆွဲကနိုင်သော ကျွမ်းကျင် ရုပ်သေးရုပ် ဆရာမျိုးတစ်ယောက် သို့မဟုတ် ထောက်လှမ်းရေး ဆရာမျိုး တစ်ယောက် ဖြစ်ကြောင်း ထင်ရှားပေါ်ပေါက်စေရန် SAC ၏ သဘောဆန္ဒ လှုံ့ဆော်မှုကြောင့် ဖြစ်သည်ဟု သူယုံကြည်ကြောင်း ပြောထားသည်။ ဤသို့ဆိုလျှင် သူသည် သူ့ကိုယ်သူ အလွန် အထင်ကြီးနေပုံရသည်။ အနောက်တိုင်း မီဒီယာ ဟောပြောချက်များ၏ အမှတ်အသားတစ်ခုဖြစ်သည့် လက်ရာမြောက်လှသော၊ ကြာမြင့်လှသော တရုတ်ဆန့်ကျင်ရေး ဝါဒ အကြောင်းအရာကို ကျွမ်းကျင်တတ်မြောက်ရန်မှာ အလွန် ခက်ခဲလှသည်။ ကျောက်ဖြူ စီမံကိန်းကို မလိုအပ်ဘဲ ငါးနှစ်တာ အချိန်ဆွဲနိုင်ခဲ့သော သူ၏ အရေးကြီးဟန်ရှိသော အခန်းကဏ္ဍမှလွဲလျှင် သူသည် မြန်မာနိုင်ငံအတွင်းတွင် ကြီးကြီးကျယ်ကျယ် လုပ်ဆောင်ပေးခဲ့ဖူးသော ကိစ္စရပ်မျိုး များများစားစား မရှိပေ။

ပိုပြီး ဖြစ်နိုင်သည့်အရာမှာ တာနယ်ကိုယ်တိုင်ကလည်း neo-imperialism တွန်းအားများ၏ 'ရုပ်သေးရုပ်' တစ်ခု ဖြစ်နေနိုင်ပါသည်။ သူသည် - စည်းမျဉ်းစည်းကမ်း မရှိဘဲ လွတ်လပ်သော စျေးကွက်များသည် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု၏ အဓိကသော့ချက် ဖြစ်သည်ဟု မှားယွင်းသော အခြေအနေသို့ ရောက်ရှိလာစေရန် တွန်းအားပေးသော - အနောက်တိုင်း စီးပွားရေး ဟောပြောချက်နှင့် neo-liberalism ခံယူချက်များကို ဦးစားပေးသော ပညာရေး တို့၏ လွှမ်းမိုးချုပ်နှောင်ထားခြင်းမျိုး ခံထားရသည့် တဇာခံတောင်မှ ဖြစ်နေနိုင်သည်။ ဤအယူဝါဒသည် အနောက်တိုင်း စီးပွားရေးများ ဖွံ့ဖြိုးတိုးတက်မှုတွင် ၎င်းတို့ အစိုးရများကိုယ်တိုင်၏ တိုက်ရိုက် ပါဝင်လှုပ်ရှားမှုနှင့် ဝင်ရောက်စွက်ဖက်မှုတို့ကို တိုင်းတာသော အခန်းကဏ္ဍကို သေချာ

လျစ်လျူရှုထားသည်။ ထို့အပြင် ပစ်မှတ်ထားသော စီးပွားရေးများ၏ ပိုင်ဆိုင်မှုများနှင့် အရင်းအမြစ်များကို ဖိနှိပ်ချုပ်ချယ် အမြတ်ထုတ်သော အနောက်တိုင်း ဘဏ္ဍာရေး အကျိုးစီးပွားများက အကန့်အသတ်မရှိ ဝင်ရောက်ရယူနိုင်မှုကို သင့်တင့်စွာ ကာကွယ်ပေးနိုင်သည့် ယန္တရားများကို လျှော့ချသော သို့မဟုတ် ဖယ်ရှားသော neo-liberal စီးပွားရေး၏ တကယ့် အစီအစဉ်ကို လုံးဝ ဖယ်ရှားထားသည်။

ဤအကျင့်စာရိတ္တ ပုံပြင်ကလေးနှင့် ယေဘုယျအားဖြင့် ခေတ်ပြိုင် ပထဝီနိုင်ငံရေးထဲမှ တကယ့် 'လူယုတ်မာများ' သည် အနောက်တိုင်းနှင့် Washington မြို့ London မြို့ Brusselsမြို့များနှင့် - ၎င်းတို့၏ စီးပွားရေး နှင့် နိုင်ငံရေး အရင်းအမြစ်များကို သူများနိုင်ငံ (အထူးသဖြင့် မြန်မာနိုင်ငံကဲ့သို့သော ဖွံ့ဖြိုးမှုနိမ့်ကျသော ကမ္ဘာ့တောင်ပိုင်းနိုင်ငံများ) ၏အစိုးရကို ထိန်းချုပ်ရန်နှင့် စီးပွားရေးနှင့် ပြည်သူများကို အသုံးချ အမြတ်ထုတ်ရန် အသုံးပြုသော သေးငယ်သော 'အထက်တန်းစား'နိုင်ငံများ - ရှိ အနောက်တိုင်း နောက်ခံရှိသော ငွေကြေးဆိုင်ရာ အကျိုးစီးပွားများ ပင်ဖြစ်ပါသည်။ မြန်မာနိုင်ငံတွင်း ကံမကောင်းခဲ့သော တာနယ်၏ စွန့်စားမှုများသည် ဤကိစ္စနှင့် ပတ်သက်လျှင် သတိထားစရာကောင်းသော ပုံပြင်လေးတစ်ပုဒ် ဖြစ်လာပါသည်။ မြန်မာနိုင်ငံ၏ အစိုးရ၊ အဖွဲ့အစည်းများနှင့် ပြည်သူများအား ဤ'လူယုတ်မာများ'နှင့် ၎င်းတို့၏ အစီအစဉ်များကို ကြိုတင်သိနိုင်သော အရည်အချင်းကို တိုးမြှင့်နိုင်ရန် ဆက်လက် ကြိုးစားအားထုတ်ကြရန် စေတနာကောင်းဖြင့် သတိပေး နှိုးဆော်လိုက်ရပါသည်။

ကျော်သူ သည် မြန်မာနိုင်ငံကို အဓိကထားပြီး အရှေ့တောင် အာရှအခြေစိုက် ပထဝီနိုင်ငံရေးနှင့် မျက်မှောက်ရေးရာ ဝေဖန်သုံးသပ်သူ တစ်ဦးဖြစ်ပါသည်။ (Twitter: @TruthandNation2. Telegram: https://t.me/truthandnation)